Star Resources Co., Ltd. မှ တင်ပြသည့် အဆိုပြုလွှာနှင့်စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း

Hospitality and Business Management ဆိုင်ရာ ပညာရေးဝန်ဆောင်မှုလုပ်ငန်း

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ ကုမ္ပဏီမှ တင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလျှောက်ထားလွှာ တင်ပြလာခြင်း | ၁၈-၁၂-၂၀၁၈ | | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်း အဝေးသို့တင်ပြခြင်း | ၄၁/၂၀၁၈ (၂၄-၁၂-၂၀၁၈) | | |
| ၃ | လုပ်ငန်းလိုအပ်ချက်အရ သက်ဆိုင်ရာ ဝန်ကြီးဌာနများသို့ သဘောထား တောင်းခံခြင်း<br>- ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့<br>- ပညာရေးဝန်ကြီးဌာန | <br>၃-၁-၂၀၁၉<br>၃-၁-၂၀၁၉ | <br>၁၄-၂-၂၀၁၉<br>၁၅-၁-၂၀၁၉ | |
| ၄ | အဆိုပြုချက်အား လက်ခံကြောင်း ပြန်ကြားခြင်း | ၂၅-၁-၂၀၁၉ | | |
| ၅ | အဆိုပြုချက်အပေါ် ပြင်ဆင်တင်ပြ ရမည့်အချက်များ အကြောင်းကြားခြင်း | ၂၅-၁-၂၀၁၉ | | |
| ၆ | အဆိုပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၄/၂၀၁၉ (၁၅-၃-၂၀၁၉) | | |
| | **စုစုပေါင်းကြာမြင့်ရက်** | **(၄၈) ရက်** | | |

## အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်ပြီးစီးမှု

ကုမ္ပဏီအမည် Star Resources Co., Ltd.

လုပ်ငန်းအမျိုးအစား: Hospitality and Business Management ဆိုင်ရာ ပညာရေးဝန်ဆောင်မှု လုပ်ငန်း

PAT အကြိမ်/ ရက်စွဲ ၄၁/၂၀၁၈ (၂၄-၁၂-၂၀၁၈)

| စဉ် | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အပေါ် ပြင်ဆင်ရန် အချက်များ | ဆောင်ရွက်ပြီးစီးမှု ပြီး:(✓) မပြီး:(X) | မှတ်ချက် |
|---|---|---|---|
| ၁။ | ပညာရေးဝန်ကြီးဌာန၏ စံသတ်မှတ်ချက်များနှင့် ကိုက်ညီအောင် ပြင်ဆင်တင်ပြရန်။ | ✓ | |

ကန့်သတ်

အကြောင်းအရာ။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Star Resources Co., Ltd. မှ Hospitality and Business Management ဆိုင်ရာ ပညာရေးဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန်<br>လုပ်ငန်းအမျိုးအစား | - Star Resources Co., Ltd.<br>- ဒေါ်နေရည်အောင်<br>- မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု<br>- Hospitality and Business Management ဆိုင်ရာ ပညာရေးဝန်ဆောင်မှုလုပ်ငန်း |
| ၂။ | တည်နေရာ<br><br><br><br>အခန်းအကျယ်အဝန်း<br>အခန်းအရေအတွက်<br>အခန်းပိုင်ရှင်<br>အခန်းငှားရမ်းခ<br>ငှားရမ်းအသုံးပြုသည့်သက်တမ်း | - တိုက်အမှတ်-၂၆၇၊ အခန်းအမှတ်-(၂၀၂၊ ၃၀၁၊ ၃၀၂၊ ၄၀၂၊ ၅၀၁၊ ၆၀၁၊ ၇၀၂)၊ အမ်အေစီတာဝါ၊ ပြည်လမ်း၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး<br>- စတုရန်းပေ ၂,၁၀၀ (တစ်ခန်း)<br>- ၇ ခန်း<br>- ဒေါ်နေရည်အောင်၊ ဒေါ်ခင်စန်းတင့်၊ ဒေါ်ဖြူဖြူခိုင်<br>- ၇,၈၀၀,၀၀၀ ၊ ၆,၀၀၀,၀၀၀ ၊ ၆,၀၀၀,၀၀၀ (တစ်နှစ်)<br>- ၅ နှစ် |
| ၃။ | ရင်းနှီးမြှုပ်နှံပြုလုပ်လိုသည့်သက်တမ်း | - |
| ၄။ | တည်ဆောက်မှုကာလ/<br>ပြင်ဆင်မှုကာလ | - |
| ၅။ | စုစုပေါင်းမတည်ငွေရင်း<br><br>**ထည့်ဝင်သည့်အမျိုးအစား**<br>ငွေသား<br>ပရိဘောဂနှင့်<br>လုပ်ငန်းသုံးပစ္စည်း<br>အခြား<br>**စုစုပေါင်း** | - ကျပ် ၁,၀၀၀.၀၀ သန်း<br><br>**ကျပ် (သန်း)**<br>၅၄၀.၀၀<br><br>၁၉၀.၀၀<br>၂၇၀.၀၀<br>**၁,၀၀၀.၀၀** |

ကန့်သတ်

Salient

၆။ ဝန်ဆောင်မှုအမျိုးအစားနှင့် ဝန်ဆောင်ခနှုန်းထား

| စဉ် | အမျိုးအမည် | သင်တန်းကာလ (သီတင်းပတ်) | ကျောင်းသားဦးရေ | ဝန်ဆောင်ခနှုန်း (ကျပ်) |
|---|---|---|---|---|
| (က) | Housekeeping Operation | ၁၂ | ၅၀ | ၁၇၀,၀၀၀ |
| (ခ) | Front Office Operation | ၁၂ | ၁၀၀ | ၂၉၅,၀၀၀ |
| (ဂ) | Food & Beverage Services | ၁၂ | ၅၀ | ၂၃၅,၀၀၀ |
| (ဃ) | Special Beverage | ၁၀ | ၂၀ | ၄၂၀,၀၀၀ |
| (င) | International Culinary | ၁၂ | ၁၈၀ | ၄၇၀,၀၀၀ |
| (စ) | Hospitality English | ၁၂ | ၂၅ | ၆၀,၀၀၀ |
| (ဆ) | International Bakery & Pastry | ၁၀ | ၆၀ | ၄၄၅,၀၀၀ |
| (ဇ) | Property Management System (Opera) | ၁၀ | ၂၀ | ၁၀၀,၀၀၀ |
| (ဈ) | Diploma in Hospitality & Tourism Management | ၆၄ | ၁၂၀ | ၉၉၅,၀၀၀ |
| (ည) | Diploma in Hospitality Front Office Management | ၅၄ | ၂၅ | ၃၃၀,၀၀၀ |
| (ဋ) | Diploma in Housekeeping Management | ၄၄ | ၁၅ | ၂၇၀,၀၀၀ |
| (ဌ) | Diploma in Food & Beverage Management | ၄၄ | ၂၅ | ၂၇၀,၀၀၀ |
| (ဍ) | Diploma in Hospitality Sales & Marketing Management | ၄၄ | ၃၀ | ၂၅၀,၀၀၀ |
| (ဎ) | Diploma in Hospitality Human Resources Management | ၄၄ | ၂၅ | ၂၅၀,၀၀၀ |
| (ဏ) | Diploma in inclusive Tourism Management | ၄၀ | ၃၀ | ၂၅၀,၀၀၀ |

| | | | | | | |
|---|---|---|---|---|---|---|
| | | (တ) | MBA in Hospitality Management | ၇၂ (၁၈ လ) | ၂၀ | အမေရိကန်ဒေါ်လာ ၃,၀၀၀ |
| ၇။ | ဝန်ထမ်းခန့်ထားမှု<br>**သင်ကြားရေး** | **ပြည်တွင်း** **ပြည်ပ**<br>**ဦးရေ** ၂၀ ဦး -<br>**အမြင့်ဆုံးလစာ** ကျပ် ၅၀၀,၀၀၀<br>**အနိမ့်ဆုံးလစာ** ကျပ် ၃၀၀,၀၀၀ | | | | |
| | **စီမံခန့်ခွဲရေး** | **ပြည်တွင်း** **ပြည်ပ**<br>**ဦးရေ** ၂၂ ဦး -<br>**အမြင့်ဆုံးလစာ** ကျပ် ၃၅၀,၀၀၀<br>**အနိမ့်ဆုံးလစာ** ကျပ် ၁၅၀,၀၀၀ | | | | |
| ၈။ | အခြားတင်ပြချက် | - ငွေကြေးအထောက်အထားအဖြစ် CB Bank တွင် ဒေါ်နေရည်အောင် အမည်ဖြင့် ၃၁-၃-၂၀၁၈ ရက်စွဲတွင် ကျပ် ၂၄၆,၈၃၆.၅၁ ရှိကြောင်း တင်ပြထားပါသည်။<br>- လုပ်ငန်းဆောင်ရွက်နေသည့် အခန်းစုစုပေါင်း ၇ ခန်းအနက် ၄ ခန်း သည် ကုမ္ပဏီဒါရိုက်တာ ဒေါ်နေရည်အောင် အမည်ဖြင့် ပိုင်ဆိုင်ထားပြီး ကျန် ၃ ခန်းအား ၅ နှစ် သက်တမ်းဖြင့် ငှားရမ်းထားကြောင်း တင်ပြထားပါသည်။<br>- အခန်းပိုင်ဆိုင်မှု အထောက်အထား၊ အခန်းငှားရမ်းစာချုပ်များ၊ သင်ကြားမည့် ဆရာ/ဆရာမများ၏ ပညာအရည်အချင်း အထောက်အထားများနှင့် Star Resources Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်တို့အား တင်ပြထားပါသည်။<br>- အမျိုးသားပညာရေးဥပဒေ (၂၀၁၄)၊ အမျိုးသားပညာရေးဥပဒေပြင်ဆင်ချက်(၂၀၁၅)နှင့် နောင်ထွက်ပေါ်လာမည့် ပညာရေးဥပဒေများနှင့် National Assessment Policy တို့အား လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ကတိဝန်ခံချက်တို့အား တင်ပြထားပါသည်။<br>- ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ အမျိုးသားအဆင့်ကျွမ်းကျင်မှု အသိအမှတ်ပြု လက်မှတ်ထုတ်ပေးရေး အစီအစဉ်မှ ထုတ်ပေးထားသည့် အသိအမှတ်ပြုလက်မှတ်၊ Lincoln University College (Malaysia) မှ ရရှိထားသည့် Certificate of Affiliation အား တင်ပြထားပါသည်။<br>- စင်ကာပူနိုင်ငံ London School of Business & Finance နှင့် Star Academy တို့အကြား ချုပ်ဆိုထားသည့် Contractual Partnership Agreement အား တင်ပြထားပါသည်။ | | | | |

| | | |
|---|---|---|
| | | - အဆိုပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေးအစီအစဉ်၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်နှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။ |
| ၉။ | စိစစ်တင်ပြချက် | - ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း)အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။<br>- အဆိုပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေးအစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးအစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။<br>- ကုမ္ပဏီသည် အဆိုပါလုပ်ငန်းအား Star Resources Academy အမည်ဖြင့် ၂၀၀၅ ခုနှစ်ကပင် စတင်လုပ်ကိုင်လျက်ရှိကြောင်း စိစစ်တွေ့ရှိရပါသည်။ |

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက-၅(အ)/ ခ-၀၂၄/ ၂၀၁၉ (၂၀၃)
ရက်စွဲ ၊ ၂၀၁၉ ခုနှစ် မတ် လ ၇ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Star Resources Co., Ltd. မှ Hospitality and Business Management ဆိုင်ရာ ပညာရေးဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Star Resources Co., Ltd. မှ တိုက်အမှတ်-၂၆၇၊ အခန်းအမှတ်-(၁၀၂၊ ၃၀၁၊ ၃၀၂၊ ၄၀၂၊ ၅၀၁၊ ၆၀၁၊ ၇၀၂)၊ အမ်အေစီတာဝါ၊ ပြည်လမ်း၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် Hospitality and Business Management ဆိုင်ရာ ပညာရေးဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြု ချက် တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ Star Resources Co., Ltd.၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ ဝန်ထမ်းများ၏ သက်သာချောင်ချိရေးအစီအစဉ်၊ Layout Plan၊ သင်ကြားမည့် ဆရာ/ဆရာမများ၏ ပညာအရည်အချင်းအထောက်အထားများ၊ သင်ကြားမည့် သင်ရိုးညွှန်းတမ်း၊ Lincoln University College (Malaysia) မှ ရရှိထားသည့် Certificate of Affiliation၊ London School of Business & Finance, Singapore နှင့် ချုပ်ဆိုထားသည့် Contractual Partnership Agreement များနှင့် အခန်းပိုင်ဆိုင်မှု အထောက်အထားတို့ကို ပူးတွဲတင်ပြထားပါသည်။

၃။ အဆိုပြုလုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ ကျပ် ၁၀၀၀,၀၀ သန်း ဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| **ထည့်ဝင်မည့်အမျိုးအစား** | **စုစုပေါင်း ကျပ်(သန်း)** |
|---|---|
| ငွေသား | ၅၄၀.၀၀၀ |
| ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်း | ၁၉၀.၀၀၀ |
| အခြား | ၂၇၀.၀၀၀ |
| **စုစုပေါင်း** | **၁၀၀၀.၀၀၀** |

၄။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရန် သင်ကြားရေးပိုင်းတွင် ပြည်တွင်းဝန်ထမ်း ၂၀ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်ပဝန်ထမ်း ခန့်ထားခြင်းမရှိပါ။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၃၀၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၅၀၀,၀၀၀ ဖြစ်ပါသည်။ စီမံခန့်ခွဲရေးပိုင်းတွင် ပြည်တွင်းဝန်ထမ်း ၂၂ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်ပဝန်ထမ်း ခန့်ထားခြင်း မရှိပါ။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ၃၅၀,၀၀၀ ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ ဝန်ဆောင်မှုပေးမည့် သင်တန်းများနှင့် ဝန်ဆောင်ခနှုန်းတို့မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | ကာလ (သီတင်းပတ်) | ကျောင်းသား ဦးရေ | ဝန်ဆောင်ခနှုန်း (ကျပ်) |
|---|---|---|---|---|
| (က) | Housekeeping Operation | ၁၂ | ၅၀ | ၁၇၀,၀၀၀ |
| (ခ) | Front Office Operation | ၁၂ | ၁၀၀ | ၂၉၅,၀၀၀ |
| (ဂ) | Food & Beverage Services | ၁၂ | ၅၀ | ၂၃၅,၀၀၀ |
| (ဃ) | Special Beverage | ၁၀ | ၂၀ | ၄၂၀,၀၀၀ |
| (င) | International Culinary | ၁၂ | ၁၈၀ | ၄၇၀,၀၀၀ |
| (စ) | Hospitality English | ၁၂ | ၂၅ | ၆၀,၀၀၀ |
| (ဆ) | International Bakery & Pastry | ၁၀ | ၆၀ | ၄၄၅,၀၀၀ |
| (ဇ) | Property Management System (Opera) | ၁၀ | ၂၀ | ၁၀၀,၀၀၀ |
| (ဈ) | Diploma in Hospitality & Tourism Management | ၆၄ | ၁၂၀ | ၉၉၅,၀၀၀ |
| (ည) | Diploma in Hospitality Front Office Management | ၅၄ | ၂၅ | ၃၃၀,၀၀၀ |
| (ဋ) | Diploma in Housekeeping Management | ၄၄ | ၁၅ | ၂၇၀,၀၀၀ |
| (ဌ) | Diploma in Food & Beverage Management | ၄၄ | ၂၅ | ၂၇၀,၀၀၀ |
| (ဍ) | Diploma in Hospitality Sales & Marketing Management | ၄၄ | ၃၀ | ၂၅၀,၀၀၀ |
| (ဎ) | Diploma in Hospitality Human Resources Management | ၄၄ | ၂၅ | ၂၅၀,၀၀၀ |
| (ဏ) | Diploma in inclusive Tourism Management | ၄၀ | ၃၀ | ၂၅၀,၀၀၀ |
| (တ) | MBA in Hospitality Management | ၇၂ (၁၈ လ) | ၂၀ | ၃,၀၀၀ (အမေရိကန်ဒေါ်လာ) |

၆။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဝန်ကြီးဌာန၊ အဖွဲ့အစည်းများသို့ သဘောထားမှတ်ချက်များ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** **(နောက်ဆက်တွဲ-က)**
အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ၂၀၁၉ ခုနှစ် ဖေဖော်ဝါရီ လ ၇ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် ၅/၂၀၁၉၊ ဆုံးဖြတ်ချက်အပိုဒ် ၃၀ အရ ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက် ပြန်ကြားခဲ့ပါသည်။

(ခ) **ပညာရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ခ)**
အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ဥပဒေ၊ နည်းဥပဒေ၊စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့် ကိုက်ညီပါကပုဂ္ဂလိကရင်းနှီးမြှုပ်နှံရန် ထောက်ခံပါကြောင်းနှင့် ပညာရေးဝန်ကြီးဌာနတွင် မှတ်ပုံတင်နိုင်ရေးဆက်လက်ဆောင်ရွက် ပေးသွားမည်ဖြစ်ပါကြောင်း သဘောထားပြန်ကြားခဲ့ပါသည်။

၇။ ငွေကြေးအထောက်အထားအဖြစ် CB Bank တွင် ဒေါ်နေရည်အောင် အမည်ဖြင့် ၃၁-၃-၂၀၁၈ ရက်စွဲတွင် ကျပ် ၂၄၆,၈၃၆.၅၁ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၈။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးအစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။

(ဂ) ကုမ္ပဏီသည် Star Resources Academy အမည်ဖြင့် ၂၀၀၅ ခုနှစ်မှ စတင်တည်ထောင်ခဲ့ပြီး ဟိုတယ်ဝန်ဆောင်မှုသင်တန်းကျောင်းလုပ်ငန်းအား ဆောင်ရွက်လျက်ရှိကြောင်း တွေ့ရှိရပါသည်။

**ဆုံးဖြတ်ရန်အချက်**

၉။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Star Resources Co., Ltd. မှ Hospitality and Business Management ဆိုင်ရာ ပညာရေးဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်း နှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

| | |
|---|---|
| ဝင်စာအမှတ် | M4.1480 |
| ရက်စွဲ | 14.2.2019 |

နောက်ဆက်တွဲ-က



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## တိုင်းဒေသကြီးအစိုးရအဖွဲ့
## ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃.၁.၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက - ၅ (အ) / ခ - ၀၂၄ / ၂၀၁၉ (၀၀၄)

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Star Resources Co.,Ltd မှ တိုက်အမှတ်-၂၆၇၊ အခန်းအမှတ်-(၂၀၂၊ ၃၀၁၊ ၃၀၂၊ ၄၀၂၊ ၅၀၁၊ ၆၀၁၊ ၇၀၂)၊ အမ်အေစီတာဝါ၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် Star University အမည်ဖြင့် Hospitality and Business Management ဘာသာရပ်များကို သင်ကြားမည့် ပညာရေးဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ၇.၂.၂၀၁၉ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၅/၂၀၁၉)၊ ဆုံးဖြတ်ချက်အပိုဒ်(၃၀)အရ ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)
(နော်ပန်းသဥ္ဇာမျိုး၊ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး)

**မိတ္တူကို**

တိုင်းဒေသကြီးဦးစီးမှူး၊ ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ရန်ကုန်အနောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
စမ်းချောင်းမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Star Resources Co.,Ltd
လက်ခံစာတွဲ/မျှောစာတွဲ

D/2019/Cabinet 46(1)

NPT-0239
18.1.19

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

## ပညာရေးဝန်ကြီးဌာန

## ဝန်ကြီးရုံး

စာအမှတ်၊ မူဝါဒ(သဘောထားမှတ်ချက်)၁၆၆/၂၀၁၉( ၇၈၂ )

ရက်စွဲ ၊ ၂၀၁၉ ခုနှစ်၊ ဇန်နဝါရီလ ၁၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်းကိစ္စ**

ရည် ညွှန်း ချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃-၁-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက - ၅ (အ) / ခ - ၀၂၄ / ၂၀၁၈ (၀၀၃)

(၂) ပညာရေးဝန်ကြီးဌာန၏ ၁၃-၇-၂၀၁၈ ရက်စွဲပါစာအမှတ်၊ စီမံကိန်း (MIC)/ ၂၀၁၈(၁၀၅၇၁)

(၃) ပညာရေးဝန်ကြီးဌာန၏ ၂၉-၁၀-၂၀၁၈ ရက်စွဲပါစာအမှတ်၊ စီမံကိန်း (သဘောထား)/၂၀၁၈(၁၇၀၅၇)

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Star Resources Co., Ltd. မှ တိုက်အမှတ်-၂၆၇၊ အခန်းအမှတ်-(၂၀၂၊ ၃၀၁၊ ၃၀၂၊ ၄၀၂၊ ၅၀၁၊ ၆၀၁၊ ၇၀၂)၊ အမ်အေစီတာဝါ၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် Star University အမည်ဖြင့် Hospitality and Business Management ဘာသာရပ်များကိုသင်ကြားသည့် ပညာရေးဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက်ပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် မေတ္တာရပ်ခံလာပါသည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လာရောက်လျှောက်ထားသည့် ကုမ္ပဏီများကို အရည်အသွေးအာမခံမှုရှိသော ပညာရေးဝန်ဆောင်မှုလုပ်ငန်းများအတွက် အောက်ပါအချက်များနှင့် ကိုက်ညီမှုရှိ-မရှိ စိစစ်ဆောင်ရွက်ပြီး ပညာရေးဝန်ကြီးဌာနတွင် မှတ်ပုံတင်နိုင်ရေး ဆက်လက် ဆောင်ရွက်ပေးသွားမည်ဖြစ်ပါကြောင်း ပညာရေးဝန်ကြီးဌာနမှ ရည်ညွှန်း(၂)ပါ စာဖြင့်လည်းကောင်း၊ အမျိုးသားပညာရေးမူဝါဒကော်မရှင်၏ သဘောထားမှတ်ချက်ကို ရည်ညွှန်း(၃)ပါစာဖြင့်လည်းကောင်း ပေးပို့ခဲ့ပြီးဖြစ် ပါသည်-

(က) ရင်းနှီးမြှုပ်နှံသူ/ အဖွဲ့အစည်း၏ နိုင်ငံသားဖြစ်မှု (မြန်မာနိုင်ငံသား သို့မဟုတ် နိုင်ငံခြားသား )၊

(ခ) ရင်းနှီးမြှုပ်နှံမှုပုံစံ၊

(၁) နိုင်ငံသား၊

(၂) နိုင်ငံသားနှင့်နိုင်ငံခြားသားဖက်စပ်

(၃) နိုင်ငံခြားသား၊

(ဂ) ဖွင့်လှစ်မည့် ပုဂ္ဂလိကကျောင်း/သင်တန်းအမျိုးအစား

(ဃ) ပေးအပ်မည့် သင်တန်းဆင်းလက်မှတ်၊ အသိအမှတ်ပြုလက်မှတ်၊ အောင်လက်မှတ်၊ ဒီပလိုမာ၊ ဘွဲ့လက်မှတ်အမျိုးအစားများနှင့် အသိအမှတ်ပြုသည့် အဖွဲ့အစည်း၊

(င) ပေးအပ်မည့် သင်တန်းဆင်းလက်မှတ်၊ အသိအမှတ်ပြုလက်မှတ်၊ အောင်လက်မှတ်၊ ဒီပလိုမာ၊ ဘွဲ့လက်မှတ်များ၏ နမူနာပုံစံ၊

(စ) သင်ရိုးညွှန်းတမ်းနှင့် သင်ရိုးမာတိကာအမျိုးအစား (အမျိုးသားသင်ရိုးညွှန်းတမ်း သို့မဟုတ် အပြည်ပြည်ဆိုင်ရာသင်ရိုးညွှန်းတမ်း)၊

(ဆ) ပုဂ္ဂလိကကျောင်း၏ အုပ်ချုပ်ရေး၊ စီမံခန့်ခွဲရေး၊ သင်ကြားရေးဆိုင်ရာကိစ္စများကို တာဝန်ခံဆောင်ရွက်သောပုဂ္ဂိုလ် သို့မဟုတ် အဖွဲ့အစည်းဝင်များ၏ ပညာအရည်အချင်း အထောက်အထား၊

(ဇ) ပုဂ္ဂလိကကျောင်း၏ အတန်းများတွင် ဘာသာရပ်အလိုက် သင်ကြားမည့် ပုဂ္ဂလိကကျောင်းဆရာများ၏ဘွဲ့လက်မှတ်၊ အထောက်အထားများ၊ သင်ကြားရေး အတွေ့အကြုံများနှင့်ကိုယ်ရေးအကျဉ်း၊

(ဈ) ကျောင်းဆရာ၏ နိုင်ငံသားဖြစ်မှု (မြန်မာနိုင်ငံသား သို့မဟုတ် နိုင်ငံခြားသား)၊

(ည) ပုဂ္ဂလိကကျောင်း၏ ဆရာ၊ ဆရာမနှင့် စီမံခန့်ခွဲရေးဝန်ထမ်း လုံလောက်မှု ရှိကြောင်း ဝန်ခံချက်၊

(ဋ) ပုဂ္ဂလိကကျောင်းအမျိုးအစားအလိုက် ထားရှိရမည့် ကျောင်းပရိဝုဏ်၊ အဆောက်အအုံ လုံလောက်မှု ရှိ/မရှိနှင့် အသုံးပြုခွင့်ရှိသော အထောက်အထား၊

(ဌ) ပုဂ္ဂလိကကျောင်း ဖွင့်လှစ်ခြင်းနှင့်ပတ်သက်၍ ကန့်ကွက်ရန် မရှိကြောင်း၊ ပုဂ္ဂလိကကျောင်းတည်ထောင်ဖွင့်လှစ်မည့် ပရိဝုဏ်၏ ဘေးပတ်ဝန်းကျင်တွင် အနီးစပ်ဆုံးနေထိုင်သူအနည်းဆုံး(၁၀)ဦး သဘောတူလက်မှတ်ရေးထိုးထားသည့် အထောက်အထားနှင့် ယင်းအထောက်အထား မှန်ကန်ကြောင်း သက်ဆိုင်ရာ ရပ်ကွက်အုပ်ချုပ်ရေးမှူး၏ ထောက်ခံချက်၊

(ဍ) ပညာရပ်ဆိုင်ရာဝန်းကျင်ကောင်းရှိ/မရှိ

(၁) ပုဂ္ဂလိကကျောင်းဝင်း၊ ပတ်ဝန်းကျင်၊ စာသင်ခန်းများ၊ လက်တွေ့ခန်းများ သည်ကျန်းမာရေးနှင့်ညီညွတ်၍ သန့်ရှင်းစင်ကြယ်စေရန် အစီအစဉ်ထားရှိခြင်း၊

(၂) အရေးပေါ်ကျန်းမာရေးစောင့်ရှောက်မှု အစီအစဉ်ထားရှိခြင်း၊

(၃) ကျောင်းလုံခြုံရေးနှင့် မီးဘေးကာကွယ်ရေးအစီအစဉ်ထားရှိခြင်း၊

(ဎ) ဖွင့်လှစ်မည့် ပုဂ္ဂလိကကျောင်းအမျိုးအစားအလိုက် သက်ဆိုင်ရာ ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်၊

(ဏ) အမျိုးသားပညာရေးဥပဒေ၊ တည်ဆဲပညာရေးဆိုင်ရာ ဥပဒေများကို လိုက်နာရန်နှင့် နောင်ထွက်ပေါ်လာမည့် ပညာရေးဥပဒေများနှင့်အညီ လိုက်နာဆောင်ရွက်သွားရန် ကတိပြုဝန်ခံချက်၊

(တ) ပုဂ္ဂလိကကျောင်း၏ ပရိဝုဏ်အတွင်း အရက်သေစာနှင့် မူးယစ်ဆေးဝါး သုံးစွဲခြင်း မရှိစေရေး ကတိဝန်ခံချက်၊

(ထ) ဆရာ၊ ဆရာမနှင့် ကျောင်းသား၊ ကျောင်းသူများ၏ ကာယိန္ဒြေ ထိခိုက်မှု မရှိစေရေး ကတိဝန်ခံချက်၊

၃။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လာရောက်လျှောက်ထားသည့် ကုမ္ပဏီများကို အရည်အသွေးအာမခံမှုရှိသော ပညာရေးဝန်ဆောင်မှုလုပ်ငန်းများအတွက် အထက်ဖော်ပြပါ အပိုဒ်(၂) (က)မှ (ထ)ရှိ အချက်အလက်များဖြင့် မဖြစ်မနေ စိစစ်ရန် လိုအပ်ပါသဖြင့် ပညာရေးဝန်ကြီးဌာနသို့ အောက်ဖော်ပြပါ ပုဂ္ဂိုလ်အား ဆက်သွယ်ဆောင်ရွက်ပါရန် ပြန်ကြားခဲ့ပါသည်-

ဒေါက်တာကျော်နိုင်
ဒုတိယအမြဲတမ်းအတွင်းဝန်
ပညာရေးဝန်ကြီးဌာန
ဖုန်း- ၀၆၇ ၄၀၇၁၁၆
အီးမေးလ် - drkyawnaing2009@gmail.com

၄။ သို့ဖြစ်ပါ၍ အထက်အပိုဒ်(၁)ပါကိစ္စနှင့်စပ်လျဉ်း၍ ပညာရေးဝန်ကြီးဌာနအနေဖြင့် မြန်မာ့ပညာရေးကဏ္ဍတွင် ပုဂ္ဂလိကရင်းနှီးမြှုပ်နှံမှုကို ကြိုဆိုပါကြောင်းနှင့်ပညာရေးဝန်ဆောင်မှုဆိုင်ရာလုပ်ငန်းများနှင့်ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဥပဒေ၊နည်းဥပဒေ၊စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့် ကိုက်ညီပါက ပုဂ္ဂလိကရင်းနှီးမြှုပ်နှံရန် ထောက်ခံပါကြောင်း ပြန်ကြားအပ်ပါသည်။

Kyaw Naing
15-1-19
ဒုတိယဝန်ကြီး (ကိုယ်စား)
( ဒေါက်တာကျော်နိုင်၊ ဒုတိယအမြဲတမ်းအတွင်းဝန် )

မိတ္တူကို -

ရုံးလက်ခံ/ မျှောစာတွဲ